


# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်



# ခွင့် ပြု မိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၇၀၅......... / ၂၀ ၀၉ ။ ၂၀ ၀၉ ခုနှစ်၊ စက်တင်ဘာ လ ၂၅ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ........ ဦးအောင်သန်း

(ခ) အဘအမည် ........ ဦးခိုင်ထွန်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ........ ၁၂/လမတ(နိုင်)၀၂၀၅၁၉

(ဃ) နေရပ်လိပ်စာ ........ အမှတ်-(၁၆၇)၊လမ်းမတော်လမ်း၊လမ်းမတော်မြို့နယ်၊ ရန်ကုန်တိုင်း။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း ........ ထွန်းပဒေသာအင်ဒပ်စတြီး(စ်)အင်(န်) ထရိတ်ဒင်းကုမ္ပဏီလီမိတက် (Htun Padetha Industries and Trading Co., Ltd.)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ........ သန့်စင်သည့် ပီလောပီနံကော်မှုန့် ထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) ........ ဦးပိုင်အမှတ် (၉၊၁၀၊၁၁၊၁၄)၊ အကွက်အမှတ်- ၁၀၃၁(ဂ)၊ အထောင်ကျေးရွာ၊ကျုံပျော်မြို့နယ်၊ ဧရာဝတီတိုင်း။

(ဇ) မတည်ငွေရင်းပမာဏ (ကျပ်) ........ ၁၆၈.၄၄(သန်း) (ကျပ်တစ်ရာခြောက်ဆယ့်ရှစ်သန်း၊လေးသိန်း၊ လေးသောင်းတိတိ)

(အမေရိကန်ဒေါ်လာ ၀.၂၄ သန်း အပါအဝင်)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၁၁ /၂၀၀၉(မနသ)
ရန်ကုန်မြို့၊ ၁၃၇၁ ခုနှစ်၊ သီတင်းကျွတ် လဆန်း ၇ ရက်
(၂၀၀၉ ခုနှစ် ၊ စက်တင်ဘာလ ၂၅ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ထွန်းပဒေသာ အင်ဒတ်စတြီး(စ်)အင်(န်) ထရိတ်ဒင်း ကုမ္ပဏီ လီမိတက် (Htun Padetha Industries and Trading Co., Ltd.) မှ ကုမ္ပဏီ၏ အုပ်ချုပ်မှု ဒါရိုက်တာ ဖြစ်သူ ဦးအောင်သန်း အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော ဦးပိုင်အမှတ် (၉၊၁၀၊၁၁၊၁၄)၊ အကွက်အမှတ်-၁၀၃၁ (ဂ)၊ အထောင်ကျေးရွာ၊ ကျုံပျော်မြို့နယ်၊ ဧရာဝတီတိုင်းရှိ လ/န(၃၉) မြေ (၄.၄၀)ဧက(၁၇၈၀၆.၁၈ စတုရန်းမီတာ) တွင် စက်ရုံတည်ဆောက်ပြီး သန့်စင်သည့် ပီလောပီနံ ကော်မှုန့်ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၅-၈-၂၀၀၉)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၈/၂၀၀၉)အစည်းအဝေး၌ တင်ပြခဲ့ပါသည်။ကော်မရှင်မှ သဘောတူ ညီခဲ့ပြီး (၂၆-၈-၂၀၀၉) နေ့တွင် ကျင်းပသော ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၂၈/၂၀၀၉) အစည်းအဝေး သို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက် အရ (၁၀-၉-၂၀၀၉) နေ့တွင် ကျင်းပသော ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၃၄/၂၀၀၉) အစည်းအဝေးသို့ တင်ပြခဲ့ရာ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ထွန်းပဒေသာ အင်ဒတ်စတြီး(စ်) အင်(န်) ထရိတ်ဒင်း ကုမ္ပဏီ လီမိတက် (Htun Padetha Industries and Trading Co., Ltd.) အား သန့်စင်သည့် ပီလောပီနံ ကော်မှုန့်ထုတ်လုပ်ခြင်း လုပ်ငန်းဆောင်ရွက် နိုင်ရန် အတွက် ခွင့်ပြုမိန့်အမှတ်၊မနသ- ၇၀၅ /၂၀၀၉ ကို ထုတ်ပေးလိုက်သည်။

၂။ ထွန်းပဒေသာ အင်ဒတ်စတြီး(စ်)အင်(န်) ထရိတ်ဒင်း ကုမ္ပဏီ လီမိတက် (Htun Padetha Industries and Trading Co., Ltd.) အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက် ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပြုလိုက် သည်။ ဥပဒေပုဒ်မ (၁၃) အရ လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ခံစားလိုပါက ကော်မရှင်သို့ လျှောက်ထားနိုင် သည်။

Htun Padetha

၃။ ထွန်းပဒေသာ အင်ဒတ်စတြီး(စ်)အင်(န်) ထရိတ်ဒင်း ကုမ္ပဏီ လီမိတက် (Htun Padetha Industries and Trading Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် ထုတ်လုပ်မှု နှင့် ပြည်ပတင်ပို့မှု ရည်မှန်းချက်ကို အနိမ့်ဆုံး ရည်မှန်းချက် အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၄။ ထွန်းပဒေသာ အင်ဒတ်စတြီး(စ်)အင်(န်) ထရိတ်ဒင်း ကုမ္ပဏီ လီမိတက် (Htun Padetha Industries and Trading Co., Ltd.) သည် ဤအဆိုပြု လုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၅။ ထွန်းပဒေသာ အင်ဒတ်စတြီး(စ်)အင်(န်) ထရိတ်ဒင်း ကုမ္ပဏီ လီမိတက် (Htun Padetha Industries and Trading Co., Ltd.)၏ မတည်ငွေရင်း ထည့်ဝင်မှုတွင် ကုမ္ပဏီ၏ အုပ်ချုပ်မှုဒါရိုက်တာ ဦးအောင်သန်း အမည်ပေါက်မြေကို အစုရှယ်ယာအဖြစ် ထည့်ဝင်မည် ဖြစ်ရာ ကုမ္ပဏီ၏ အစုရှယ်ယာ ထည့်ဝင်မှု ကိစ္စများ ဆောင်ရွက်ပြီးစီးသည့် အချိန်တွင် အဆိုပါမြေကွက်အား ထွန်းပဒေသာ အင်ဒတ်စတြီး(စ်)အင်(န်) ထရိတ်ဒင်း ကုမ္ပဏီ လီမိတက် (Htun Padetha Industries and Trading Co., Ltd.)၏ အမည်ပေါက် ဖြစ်စေရေးအတွက် ကျုံပျော်မြို့နယ် မြေစာရင်းဦးစီးဌာနသို့ လျှောက်ထားဆောင်ရွက်ရမည်။ ဂရန်ရရှိပါက ဂရန်မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြ ရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၇။ ထွန်းပဒေသာ အင်ဒတ်စတြီး(စ်)အင်(န်) ထရိတ်ဒင်း ကုမ္ပဏီ လီမိတက် (Htun Padetha Industries and Trading Co., Ltd.) သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းအလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေးဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၈။ ထွန်းပဒေသာ အင်ဒတ်စတြီး(စ်)အင်(န်) ထရိတ်ဒင်း ကုမ္ပဏီ လီမိတက် (Htun Padetha Industries and Trading Co., Ltd.) သည် ဤခွင့်ပြုမိန့် အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန် အတွက် လိုအပ်သည့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့် အတိုင်း စံနစ်တကျထားရှိ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ မပျက်မကွက် အစီရင် ခံရမည်။

၉။ ထွန်းပဒေသာ အင်ဒတ်စတြီး(စ်)အင်(န်) ထရိတ်ဒင်း ကုမ္ပဏီ လီမိတက် (Htun Padetha Industries and Trading Co., Ltd.) သည် ပုဂ္ဂလိက စက်မှု လုပ်ငန်း ဥပဒေ အရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေး နှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံ တင်ထားရှိ ဆောင်ရွက်ရမည်။

၁၀။ ထွန်းပဒေသာ အင်ဒတ်စတြီး(စ်)အင်(န်) ထရိတ်ဒင်း ကုမ္ပဏီ လီမိတက် (Htun Padetha Industries and Trading Co., Ltd.) သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံ ရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံ ဇယားများဖြင့် (၆)လ တစ်ကြိမ်(ဧပြီ/အောက်တိုဘာ လများ) မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံ ရမည်။ အဆိုပြု လုပ်ငန်း ၏ စီးပွားဖြစ် စတင်ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၁။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက် တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၂။ ထွန်းပဒေသာ အင်ဒတ်စတြီး(စ်)အင်(န်) ထရိတ်ဒင်း ကုမ္ပဏီ လီမိတက် (Htun Padetha Industries and Trading Co., Ltd.) သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှုမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့်ကို ပြန်လည်ရုပ်သိမ်းသည်အထိ အရေးယူ ခြင်းခံရမည်။

၁၃။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ ဆောင်ရွက် မည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာ က စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင် ရေးအတွက်သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့် အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက်စာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၁၄။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဗိုလ်မှူးချုပ်မောင်မောင်သိမ်း)

ဥက္ကဋ္ဌ

စာအမှတ်၊ရက-၆(က) /မ- ၁၀၂၉/၂၀၀၉(၁၅၄၃၆-၈ )

ရက်စွဲ၊ ၂၀၀၉ခုနှစ်၊ စက်တင်ဘာ လ ၂၅ ရက်။

ဖြန့်ဝေခြင်း-

၁။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ဥက္ကဋ္ဌရုံး။

၂။ နိုင်ငံတော် အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ ရုံး။

၃။ အစိုးရ အဖွဲ့ရုံး။

၄။ ဧရာဝတီတိုင်း အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီရုံး။

၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ။

၆။ အမှတ်(၁) စက်မှု ဝန်ကြီးဌာန။

၇။ အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန။

၈။ အလုပ်သမား ဝန်ကြီးဌာန။

၉။ စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန။

၁၀။ ဆက်သွယ်ရေး၊ စာတိုက်နှင့် ကြေးနန်း ဝန်ကြီးဌာန။

၁၁။ ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန။

၁၂။ လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန။

၁၃။ ပြည်ထဲရေးဝန်ကြီးဌာန။

၁၄။ ဥက္ကဋ္ဌ၊နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့။(ပို့ဆောင်ရေး ဝန်ကြီးဌာန)

၁၅။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်။

၁၆။ ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန။

၁၇။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ စားသောက်ကုန် လုပ်ငန်း။

၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန။

၁၉။ ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန။

၂၀။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန။

၂၁။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း။

၂၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန။

၂၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန။

၂၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ အာမခံ လုပ်ငန်း။

၂၅။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ စိုက်ပျိုးရေး လုပ်ငန်း။

၂၆။ ဥက္ကဋ္ဌပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်။

၂၇။ အုပ်ချုပ်မှု ဒါရိုက်တာ၊ ထွန်းပဒေသာ အင်ဒတ်စတြီး(စ်)အင်(န်) ထရိတ်ဒင်း ကုမ္ပဏီ လီမိတက် (Htun Padetha Industries and Trading Co., Ltd.)